## ကာန့်သတ်

ကုမ္ပဏီအမည် - Universal Cold Store (Yangon) Industrial Company Limited

လုပ်ငန်း - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Universal Cold Store (Yangon) Industrial Company Limited မှ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချိုနှင့် ရေငန် ငါး၊ပုစွန် ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၃-၁၂-၂၀၁၅ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့အကြောင်းကြားခြင်း | ၃၀-၁၂-၂၀၁၅ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၃၁-၁၂-၂၀၁၅ | ၂၇-၁-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၃၁-၁၂-၂၀၁၅ | ၁၈-၁-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၃၁-၁၂-၂၀၁၅ | ၁၄-၁-၂၀၁၆ | |
| | (ဃ) မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန | ၃၁-၁၂-၂၀၁၅ | ၂၀-၁-၂၀၁၆ | |
| ၄ | PAT တင်ပြခြင်း (၄၈/၂၀၁၅) | ၂၉-၁၂-၂၀၁၅ | | |
| ၅ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၃၀-၁၂-၂၀၁၅ | | |
| ၆ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၅-၁-၂၀၁၆ | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များပြင်ဆင်တင်ပြခြင်း | ၂၂-၁-၂၀၁၆ | | |
| ၈ | ကုမ္ပဏီမှ အဆိုပြုချက် (၁၀)စုံ ပေးပို့ခြင်း | ၃-၂-၂၀၁၆ | | |
| ၉ | ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၅-၂-၂၀၁၆ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၄၄ ရက် | | |

၁။ ကုမ္ပဏီအမည် Universal Cold Store (Yangon) Industrial Company Limited
၂။ အဖွဲ့အစည်းပုံသဏ္ဌာန် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု
၃။ လုပ်ငန်းအမျိုးအစား Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချိုနှင့် ရေငန် ငါး၊ပုစွန် ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်း
၄။ တည်နေရာ ရန်ကုန်တိုင်း ဒေသကြီး၊ လှိုင်သာယာ မြို့နယ်၊ ငွေပင်လယ်စက်မှုဇုန် မြေတိုင်းရပ်ကွက်အမှတ်-၂၄၊ မြေကွက်အမှတ်-၃၈
၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၈၂၇.၂၅ သန်း
၆။ ရောင်းချမည့်စနစ် - ၁၀၀ % ပြည်ပတင်ပို့ ရောင်းချမည် ဖြစ်ပါသည်။
၇။ လုပ်ငန်းသက်တမ်း - ၅၀ နှစ်
၈။ အရင်းကြေကာလ - ၄နှစ် ၁လ
၉။ IRR - ၁၅.၅၃%

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့်ပြုစုတင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | ဝင်ငွေခွန် | ၁၈၆.၀၈၈ | ၃၇၉.၄၃၅ |
| ၄ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၄၀.၃၈၂ |
| ၅ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ် ထက်ကျော် ပါကအခွန်ပေးရမည့် ဝန်ထမ်း(၁)ဦး |
| ၆ | CSR (၂%) | | ၃၇.၆၅၃ |
| ၇ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၈၃) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၁၈၈.၂၄၈ | ၄၅၉.၆၃၅ |
| | **Cost & Benefit** | ၁:၃ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Universal Cold Store (Yangon) Industrial Company Limited မှ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချိုနှင့် ရေငန်ငါး၊ပုစွန် ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Universal Cold Store (Yangon) Industrial Company Limited<br>- ဦးမောင်မောင် (အဘ-ဦးနိုရ်အိစ္စလာမ်) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချိုနှင့် ရေငန်ငါး၊ပုစွန် ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၄၊ မြေကွက်အမှတ်-၃၈ |
| | မြေပိုင်ရှင် | - ဦးမောင်မောင် |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၂.၂၂၁ ဧကအနက် ၁.၈၆၉ ဧက (၇,၅၆၃.၁၈ စတုရန်းမီတာ) |
| | တည်ဆောက်ရေးကာလ | - ၃ နှစ် |
| ၃။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် |
| ၄။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၈၂၇.၂၅ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | |
| | | **(ကျပ်/သန်း)** |
| | ငွေသား | ၈၀.၀၀ |
| | မြေနှင့် အဆောက်အဦ | ၁၅၀.၀၀ |
| | စက်နှင့် စက်ပစ္စည်း(ပြည်တွင်းဝယ်) | ၅၉၇.၂၅ |
| | **စုစုပေါင်း** | **၈၂၇.၂၅** |
| ၅။ | ဝန်ထမ်းအင်အား | - **ပြည်တွင်း ၈၃ ဦး** (ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၈,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၃၀၀,၀၀၀ကျပ်) |
| ၆။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်ပတင်ပို့ |
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်<br>(၆)နှစ်မြောက်<br>(ပြည်ပတင်ပို့) | **စဉ် / ပစ္စည်းအမျိုးအစား / အရေအတွက် (MT) / လက်ခဈေးနှုန်း (US$/MT)**<br>(၁) Cat Fish / ၁၂၀ / ၅၀၀ |

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် ( MT ) | လက်ခစျေးနှုန်း (US$/MT) |
|---|---|---|---|
| (၂) | Queen Fish | ၃၂ | ၅၀၀ |
| (၃) | Hilsa Fish | ၃၆ | ၅၀၀ |
| (၄) | Sardine Fish | ၃၂ | ၅၀၀ |
| (၅) | Barracuda Fish | ၃၂ | ၅၀၀ |
| (၆) | King Fish | ၃၂ | ၅၀၀ |
| (၇) | Boal | ၄၀ | ၅၀၀ |
| (၈) | Ayer | ၃၂ | ၅၀၀ |
| (၉) | Ribbon | ၃၂ | ၅၀၀ |
| (၁၀) | Shoil | ၃၂ | ၅၀၀ |
| (၁၁) | Vanamie (White Shrimp) | ၂၈ | ၆၅၀ |

| | | |
|---|---|---|
| ၇။ | ကုမ္ပဏီ၏ ဝင်ငွေ (၆ နှစ်မြောက်)<br>အသုံးစရိတ်<br>ကုမ္ပဏီ၏ အသားတင်အမြတ်(၆ နှစ်) | - ကျပ် ၄၁၉.၁၃ သန်း<br>- ကျပ် ၂၄၅.၁၉ သန်း<br>- ကျပ် ၁၇၃.၉၄ သန်း |
| ၈။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>ဝင်ငွေခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | <br>- ကျပ် ၅၇.၉၈ သန်း<br>- ၄နှစ် ၁လ<br>- ၁၅.၅၃% |
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁၀၀၀KVA |
| ၁၀။ | အခြားတင်ပြချက် | - စက်ရုံ၏တည်နေရာပြမြေပုံ နှင့် Layout Plan များကို တင်ပြထားပါသည်။<br>- ပြည်ပမှ ဝယ်ယူမည့် ငါးအမျိုးအစားများနှင့် ထုတ်လုပ် မည့် ကုန်ပစ္စည်းနမူနာဓာတ်ပုံများကို တင်ပြထားပါ သည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ လုပ်ငန်းသဘော သဘာဝ၊ ပတ်ဝန်းကျင်ထိန်းသိမ်း စောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများလစာအပေါ် ဝင်ငွေခွန်ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များလျှောက်ထားချက် နှင့် CSR Project တို့ကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - ကုမ္ပဏီမှ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ပြုပြင်ထုတ်လုပ်သော ရေချိုငါး၊ ပုစွန်နှင့် ရေငန်ငါး၊ ပုစွန် လုပ်ငန်းကို ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့ နယ်၊ ငွေပင်လယ်စက်မှုဇုန်၊မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊မြေကွက် အမှတ်(၃၈) တွင် လုပ်ကိုင်ဆောင်ရွက်ရန် ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂၈ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဆိုပြုချက်စစ်ဆေးရေးအဖွဲ့၏ (၄၈/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေး မှ ဆောင်ရွက်မည့်မြေတွင် စက်ရုံ ရှိ-မရှိ၊ တင်သွင်းမည့် ငါးအမျိုးအစားကို သေချာဖော်ပြပေး စေလို ကြောင်း ကွင်းဆင်းစစ်ဆေးရန်ဆုံးဖြတ်ခဲ့ပါသည်။<br>- အဆိုပါအစည်းအဝေး ဆုံးဖြတ်ချက်အရ Universal Cold Store (Yangon) Industrial Company Limited တည် ရှိရာ နေရာသို့ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၃ရက်နေ့တွင် ကွင်း ဆင်းစစ်ဆေးမှုများ ပြုလုပ်ခဲ့ပါသည်။ ကွင်းဆင်း စစ်ဆေး ချက် အရ ကုမ္ပဏီသည် ကုမ္ပဏီ မှတ်ပုံတင်အမှတ်- ၅၃၂/ ၂၀၀၉-၂၀၁၀ (၂၉-၇-၂၀၀၉) ရက်စွဲဖြင့် ဖွဲ့စည်းမှတ်ပုံ တင် ခဲ့ကြောင်း၊ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် ကုန်ကြမ်း ပစ္စည်းများကို တင်သွင်းရာတွင် Omen နိုင်ငံမှ ရေငန်ငါး များကို United Arab Emirates (U.A.E) နိုင်ငံ၊ Dubai မြို့မှတစ်ဆင့်လည်းကောင်း၊ ဗီယက်နမ် နိုင်ငံမှ ရေချို ငါး၊ ပုစွန်များကို လည်းကောင်း မြန်မာနိုင်ငံသို့ သင်္ဘော ဖြင့်တင်သွင်းကာ အဆင့်ဆင့်ပြုပြင်အေးခဲပြီးရရှိ လာ သော ကုန်ချောများကို ဝယ်လိုအားအလိုက် Saudi၊ Malaysia၊ Singapore၊ Japan၊ Australia၊ Qatarနှင့် တရုတ်နိုင်ငံများ သို့ ပြန်လည်တင်ပို့ ရောင်းချမည်ဖြစ်ကြောင်း၊ အဆိုပြု လုပ်ငန်း ဆောင်ရွက်မည့် တည်နေရာသည် ကုမ္ပဏီ၏ ဒါရိုက်တာ အဖွဲ့ဝင်ဖြစ်သူဦးမောင်မောင် အမည်ဖြင့် အသုံးပြု ခွင့်ရရှိ ထားပြီး၂.၂၂၁ဧက ကျယ်ဝန်း ကာ၊ လက် ရှိ တွင် Normal စနစ်ဖြင့် ရေချိုငါး၊ ပုစွန် နှင့် ရေငန်ငါး၊ ပုစွန် လုပ်ငန်းကို ကော်မရှင် ခွင့်ပြုမိန့် မယူဘဲ ဆောင်ရွက်နေပြီး လစ်လပ် သော ၁.၈၆၉ ဧက အကျယ်တွင် ကော်မရှင် ခွင့်ပြုမိန့်ဖြင့် |

| | | |
|---|---|---|
| | | Contract Processing စနစ် (လက်ခစားစနစ်) ဖြင့် ပြုပြင်ထုတ် လုပ်သော ရေချိုငါး၊ ပုစွန်နှင့် ရေငန်ငါး၊ ပုစွန် လုပ်ငန်းဆောင်ရွက်မည့် စက်ရုံတည်ဆောက် သွားမည်ဖြစ် ကြောင်း၊ အသစ် ဆောက်လုပ် မည့် စက်ရုံသည် လက်ရှိ လုပ်ငန်းဆောင်ရွက်နေသော စက်ရုံထက် ပိုမိုကြီးမားပြီး ၁၂၉'၂" x ၁၅၁' ကျယ်ဝန်းကြောင်း၊ မူလစက်ရုံနှင့် အဆိုပြုစက်ရုံတို့အား သီးခြား ဖြစ်အောင် အုတ်တံတိုင်း ဖြင့်ပိုင်းခြားကာရုံမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိခဲ့ရပါ သည်။<br>- စက်ရုံကို လက်ရှိဆောင်ရွက်လျက်ရှိသော မြေကွက်ရှိ လစ်လပ်သော မြေနေရာတွင် ထပ်မံတိုးချဲ့ ဆောက်လုပ် ကာ Contract Processing (လက်ခစားစနစ်) စနစ် ဖြင့်ပြုပြင်ထုတ်လုပ်သော ရေချိုငါး၊ ပုစွန်နှင့် ရေငန် ငါး၊ ပုစွန်လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပြီး အဆိုပါ တိုးချဲ့ လုပ်ငန်း အတွက် ကော်မရှင်ခွင့်ပြုမိန့် ရရှိနိုင်ရန် အဆို ပြု တင်ပြလာခြင်းဖြစ်ပါသည်။<br>- Universal Cold Store (Yangon) Industrial Company Limited နှင့် K&H Stuff Trading L.L.C တို့အကြား လက်ခစားစနစ်ဖြင့် အကျိုးတူပူးပေါင်းဆောင်ရွက်မည့် သဘောတူ စာချုပ်(မူကြမ်း)ကို တင်ပြထားပါသည်။<br>- Exchange Rate အနေဖြင့် 1 US$ =1250 Kyats ဖြင့် ဖော်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၂/မ-၂၂၇/၂၀၁၆( ၁၁၀ )

ရက်စွဲ ၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Universal Cold Store (Yangon) Industrial Company Limited. မှ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချိုနှင့် ရေငန်ငါး၊ပုစွန် ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ Universal Cold Store (Yangon) Industrial Company Limited. မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ် စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၄၊ မြေကွက်အမှတ်-၃၈ရှိ စုစုပေါင်းမြေဧရိယာ ၂.၂၂၁ဧက အနက် ၁.၈၆၉ ဧက၊ (၇,၅၆၃.၀၈ စတုရန်းမီတာ) ကို Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချိုနှင့် ရေငန်ငါး၊ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၃ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ ကျပ် ၈၂၇.၂၅ သန်း ဖြစ်ပြီး အောက်ပါ အတိုင်း ထည့်ဝင်ထားပါသည်-

| | | (ကျပ်/သန်း) |
|---|---|---|
| (က) | ငွေသား | ၈၀.၀၀ |
| (ခ) | မြေနှင့်အဆောက်အဦ | ၁၅၀.၀၀ |
| (ဂ) | စက်နှင့်စက်ပစ္စည်း(ပြည်တွင်းဝယ်) | ၅၉၇.၂၅ |
| | **စုစုပေါင်း** | ၈၂၇.၂၅ |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၈၃ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၈,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၃၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်ပသို့ တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)ရှိ ထုတ်လုပ်မှုနှင့် လက်ခစျေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**ပြည်ပပို့ ၁၀၀%**

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (MT) | လက်ခစျေးနှုန်း (US$/MT) |
|---|---|---|---|
| (၁) | Cat Fish | ၁၂၀ | ၅၀၀ |
| (၂) | Queen Fish | ၃၂ | ၅၀၀ |
| (၃) | Hilsa Fish | ၃၆ | ၅၀၀ |
| (၄) | Sardine Fish | ၃၂ | ၅၀၀ |
| (၅) | Barracuda Fish | ၃၂ | ၅၀၀ |
| (၆) | King Fish | ၃၂ | ၅၀၀ |
| (၇) | Boal | ၄၀ | ၅၀၀ |
| (၈) | Ayer | ၃၂ | ၅၀၀ |
| (၉) | Ribbon | ၃၂ | ၅၀၀ |
| (၁၀) | Shoil | ၃၂ | ၅၀၀ |
| (၁၁) | Vanamie (White Shrimp) | ၂၈ | ၆၅၀ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄၁၉.၁၃ |
| (ခ) | အသုံးစရိတ် | ၂၄၅.၁၉ |
| (ဂ) | အသားတင်အမြတ် | ၁၇၃.၉၄ |

၇။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဋ္ဌမမြောက်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ ကျပ် ၅၇.၉၈ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ

ကာလမှာ ၄နှစ်နှင့် ၁လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၅.၅၃% ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါမြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်း မရှိပါကြောင်းနှင့် အဆိုပါ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ထောက်ခံပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန** မှ ငါးလုပ်ငန်းဦးစီးဌာနမှ ချမှတ်ထားသောလုပ်ငန်းအစီအမံများအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက အဆိုပြုလုပ်ငန်းအား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျှော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့်လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (Corporate Social Responsibility -CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား ထည့်ဝင်သွားရန် အပါအဝင် ကတိကဝတ်များအား အကောင်အထည်ဖော် ဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးဆွဲ တင်ပြရန်လိုအပ်ပါကြောင်း၊ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့်လုပ်ငန်း ဆောင်ရွက်မည့်

အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ထပ်မံလျှောက်ထားဆောင်ရွက်ရန် လိုအပ်ကြောင်းသဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဃ**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် Universal Cold Store (Yangon) Industrial Company Limited သည် ၉-၁၀-၂၀၁၅ ရက်နေ့ရှိ ဘဏ်လက်ကျန်စာရင်းအရ US$ ၁၀၀,၄၈၆.၆၁ ရှိကြောင်း၊ မြန်မာနိုင်ငံရှိ ကမ္ဘောဇဘဏ်တွင် Universal Cold Store (Yangon) Industrial Company Limited သည် ၁၉-၁၀-၂၀၁၅ ရက်နေ့တွင် ကျပ် ၅,၅၈၆,၁၈၆.၀၀ ရှိကြောင်း ငွေကြေးအထောက်အထားများ တင်ပြထားပါသည်။

၁၀။ Universal Cold Store (Yangon) Industrial Company Limited နှင့် K&H Stuff Trading L.L.C တို့အကြား လက်ခစားစနစ်ဖြင့် အကျိုးတူပူးပေါင်းဆောင်ရွက်မည့် သဘောတူစာချုပ်(မူကြမ်း)ကို တင်ပြထားပါသည်။

၁၁။ Universal Cold Store (Yangon) Industrial Company Limited မှ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းသဘောသဘာဝ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်း စောင့်ရှောက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါ သည်။

၁၂။ **စိစစ်တင်ပြချက်**

(က) ကုမ္ပဏီမှ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ပြုပြင်ထုတ်လုပ်သော ရေချိုငါး၊ ပုစွန် နှင့် ရေငန်ငါး၊ ပုစွန်လုပ်ငန်းကို ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာ

မြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၂၄)၊ မြေကွက်အမှတ် (၃၈) တွင် လုပ်ကိုင်ဆောင်ရွက်ရန် ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂၉ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက်စစ်ဆေးရေးအဖွဲ့၏ (၄၈/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ ဆောင်ရွက်မည့် မြေတွင် စက်ရုံ ရှိ-မရှိ ၊ တင်သွင်းမည့် ငါးအမျိုးအစားကို သေချာ ဖော်ပြပေးစေလိုကြောင်း ကွင်းဆင်းစစ်ဆေးရန် ဆုံးဖြတ်ခဲ့ပါသည်။

(ခ) အဆိုပါအစည်းအဝေး ဆုံးဖြတ်ချက်အရ Universal Cold Store (Yangon) Industrial Company Limited တည်ရှိရာ နေရာသို့ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၃ ရက်နေ့တွင် ကွင်းဆင်းစစ်ဆေးမှုများ ပြုလုပ်ခဲ့ပါသည်။ ကွင်းဆင်းစစ်ဆေးချက်အရ ကုမ္ပဏီသည် ကုမ္ပဏီမှတ်ပုံတင်အမှတ်- ၅၃၂/၂၀၀၉-၂၀၁၀(၂၉-၇-၂၀၀၉) ရက်စွဲဖြင့် ဖွဲ့စည်းမှတ်ပုံတင်ခဲ့ကြောင်း၊ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ကုန်ကြမ်းပစ္စည်းများကို တင်သွင်းရာတွင် Omen နိုင်ငံမှ ရေငန်ငါးများကို United Arab Emirates (U.A.E) နိုင်ငံ၊ Dubai မြို့မှတစ်ဆင့်လည်းကောင်း၊ ဗီယက်နမ်နိုင်ငံမှ ရေချိုငါး၊ ပုစွန်များကို လည်းကောင်း မြန်မာနိုင်ငံသို့ သင်္ဘောဖြင့်တင်သွင်းကာ အဆင့်ဆင့် ပြုပြင်အေးခဲပြီး ရရှိလာသော ကုန်ချောများကို ဝယ်လိုအားအလိုက် Saudi၊ Malaysia၊ Singapore၊ Japan၊ Australia၊ Qatar နှင့် တရုတ်နိုင်ငံများသို့ ပြန်လည်တင်ပို့ ရောင်းချမည်ဖြစ်ကြောင်း၊ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် တည်နေရာသည် ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့ဝင်ဖြစ်သူ ဦးမောင်မောင် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားပြီး ၂.၂၂၀ ဧက ကျယ်ဝန်းကာ၊ လက်ရှိတွင် Normal စနစ်ဖြင့် ရေချိုငါး၊ ပုစွန် နှင့် ရေငန်ငါး၊ ပုစွန်လုပ်ငန်း ကော်မရှင် ခွင့်ပြုမိန့်မယူဘဲ ဆောင်ရွက်နေပြီး လစ်လပ်သော ၁.၈၆၉ ဧက အကျယ်တွင် ကော်မရှင်ခွင့်ပြုမိန့်ဖြင့် Contract Processing စနစ် (လက်ခစားစနစ်) ဖြင့် ပြုပြင်ထုတ်လုပ်သော ရေချိုငါး၊ ပုစွန်နှင့် ရေငန်ငါး၊ ပုစွန်လုပ်ငန်းဆောင်ရွက်မည့် စက်ရုံတည်ဆောက်သွားမည် ဖြစ်ကြောင်း၊ အသစ်ဆောက်လုပ်မည့် စက်ရုံသည် လက်ရှိလုပ်ငန်းဆောင်ရွက်နေသော စက်ရုံထက် ပိုမိုကြီးမားပြီး ၁၂၉'၂" x ၁၅၀' ကျယ်ဝန်းကြောင်း၊ မူလစက်ရုံနှင့် အဆိုပြုစက်ရုံ တို့အား သီးခြားဖြစ်အောင် အုတ်တံတိုင်းဖြင့် ပိုင်းခြားကာရံမည် ဖြစ်ကြောင်း စိစစ်တွေ့ရှိခဲ့ရပါသည်။

(ဂ) ကုမ္ပဏီသည် ၂၀၁၄-၂၀၁၅ စည်းကြပ်နှစ်အထိ ကျသင့်အခွန်များအားလုံး ပြေကြေစွာ ထမ်းဆောင်ထားသည့် အထောက်အထား တင်ပြထားပါသည်။

(ဃ) အဆိုပါ ကွင်းဆင်းစစ်ဆေးချက် အစီရင်ခံစာနှင့်အတူ Universal Cold Store (Yangon) Industrial Company Limited မှ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ပြုပြင်ထုတ်လုပ်သော ရေချိုငါး၊ ပုစွန် နှင့် ရေငန်ငါး၊ ပုစွန် လုပ်ငန်းအနေဖြင့် ကော်မရှင်အစည်းအဝေးသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

၁၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည) အရ အခွန်အကောက်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်များကိုတင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ မြန်မာနိုင်ငံ Universal Cold Store (Yangon) Industrial Company Limited. မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ် စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၄၊ မြေကွက်အမှတ်-၃၈ ရှိ စုစုပေါင်းမြေဧရိယာ ၁.၈၆၉ ဧက၊ (၇,၅၆၃.၀၈ စတုရန်းမီတာ) ကို ငှားရမ်းကာ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ပြုပြင်ထုတ်လုပ်သော ရေချိုငါး၊ ပုစွန် နှင့် ရေငန်ငါး၊ ပုစွန်လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

# Universal Cold Store (Yangon) Industrial Company Limited ၏
# ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ရာထူး | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁ | ဦးမောင်မောင်<br>၂/ လကန (နိုင်) ၀၄၆၂၇၇ | ဒါရိုက်တာ | အမှတ်-၂၂၄/၂၂၆၊ (၆)လွှာ၊ အခန်း (၆၀၁)၊ ဗိုလ်အောင်ကျော်တာဝါ၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့ |
| ၂ | ဦးမင်းဇော်နိုင်<br>၁၂/ ကတတ(နိုင်)၀၃၀၁၂၇ | ဒါရိုက်တာ | အမှတ်-၂၂၄/၂၂၆၊ (၆)လွှာ၊ အခန်း (၆၀၁)၊ ဗိုလ်အောင်ကျော်တာဝါ၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့ |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | ၀၉-၉၇၇၇၆၆၆၇၆ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | အမှတ်-၂၂၄/၂၂၆၊ (၆)လွှာ၊ အခန်း (၆၀၁)၊ ဗိုလ်အောင်ကျော်တာဝါ၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | ဦးမောင်မောင် |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ | Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချိုနှင့် ရေငန် ငါး၊ပုစွန် ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | ၅၃၂/၂၀၀၉-၂၀၁၀ (၂၉-၇-၂၀၀၉) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | ၂၉-၇-၂၀၀၉ မှ ၃၁-၇-၂၀၁၄ |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - |




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

နောက်ဆက်တွဲ-က

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီ လ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀. ၁၂. ၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက - ၂/မ-၂၂၇/၂၀၁၅(၁၀၃၆)

၁။ Universal Cold Store (Yangon) Industrial Company Limited မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၄၊ မြေကွက်အမှတ်-၃၈ ရှိ စုစုပေါင်း မြေဧရိယာ ၂. ၂၂၁ ဧက(၈၉၈၈. ၀၇၆၀၆ စတုရန်းမီတာ)ကို ငှားရမ်းကာ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့်ပြုပြင်ထုတ်လုပ်သော ရေချိုငါး၊ ပုစွန်နှင့် ရေငန်ငါး၊ ပုစွန်လုပ်ငန်းကို ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၈၃)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ်-၂၄၊ မြေကွက်အမှတ်-၃၈ ရှိ စုစုပေါင်း မြေဧရိယာ ၂. ၂၂၁ ဧက(၈၉၈၈. ၀၇၆၀၆ စတုရန်းမီတာ)အား တစ်စတုရန်းမီတာအတွက် တစ်လလျှင်ငွေကျပ်(၃)သိန်း၊ တစ်နှစ်လျှင် ငွေကျပ်(၃၆)သိန်းနှုန်းဖြင့် (၅)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/3..(16)

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၂၁. ၁. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၆၅)အရ Universal Cold Store (Yangon) Industrial Company Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ် ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Universal Cold Store (Yangon) Industrial Company Limited
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cabinet/3.,(17)

၁၁၆-၇၀
၂၀/၁



နောက်ဆက်တွဲ- ခ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေကျေး( ၁၀၄ /၂၀၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၈ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၃၁-၁၂-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက-၂/ မ- ၂၂၇/ ၂၀၁၅(၁၀၃၇)
(၂) ငါးလုပ်ငန်းဦးစီးဌာန၏ (၁၅-၁-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ငလ/နပတ- ၅/ ၂၀၁၅-၂၀၁၆/ ၃၄၉

၁။ Universal Cold Store (Yangon) Industrial Company Limited. မှ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ်-၂၄၊ မြေကွက်အမှတ်-၃၈ ရှိ စုစုပေါင်းမြေဧရိယာ ၂.၂၂၂ ဧက၊ (၈၉၈၈.၀၇၆၀၆ စတုရန်းမီတာ) ကို ၄၁းရမ်းကာ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ပြုပြင်ထုတ်လုပ်သော ရေချိုငါး၊ ပုစွန်နှင့် ရေငန်ငါး၊ ပုစွန်လုပ်ငန်းကို ဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် တင်ပြမှုအပေါ် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြား ပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ Universal Cold Store (Yangon) Industrial Company Limited. မှ အဆိုပြုတင်ပြ ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) **ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအား ညီညွတ်မှုရှိ/ မရှိ**

အဆိုပြုချက်တွင် ဖော်ပြထားသော Contract Processing စနစ်အတွက် ကုန်ကြမ်း ရရှိနိုင်မည့် အခြေအနေမှာ တစ်နှစ်လျှင် ပျမ်းမျှကုန်ကြမ်း (၅၉၀) တန်မှ ကုန်ချော (၄၄၈) တန်ခန့် ထွက်ရှိနိုင်မည်ဖြစ်ပြီး၊ တစ်ရက်လျှင် ကုန်ချော (၁.၂၃) တန်ခန့် ထွက်ရှိနိုင်မည် ဖြစ်ပါသည်။

(ခ) **ဈေးနှုန်းဆိုင်ရာတွက်ခြေကိုက်မှုရှိ/ မရှိ**

အဆိုပြုချက်တွင် ဖော်ပြထားသော Contract Processing စနစ်အတွက် လုပ်အားခမှာ တစ်တန်လျှင် အမေရိကန်ဒေါ်လာ (၅၀၉) ခန့်ရရှိနိုင်ပါသဖြင့်



Ministry Office Letter Head (New))

တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့်ကုန်ကြမ်း တန် (၅၉၀) အတွက် အမေရိကန်ဒေါ်လာ (၃၀၀၃၁၀) ခန့်ရရှိနိုင်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် Universal Cold Store (Yangon) Industrial Company Limited. ၏ ဖော်ပြထားသော အချက်အလက်များအရ ဈေးနှုန်းဆိုင်ရာတွက်ခြေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

**(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား အချိုးအစားညီမျှမှုရှိ/ မရှိ**

စက်ရုံတွင် တပ်ဆင်ထားသည့် ကုန်ချောထုတ်လုပ်ရန်စက်များ၏ Capacity မှာ ငါး/ပုစွန်ပြုပြင်ထုတ်လုပ်ရန်အတွက် Contact Freezer ( 0.5 MT / 2 hr x 1 No), Air Blast Freezer (5 MT/ 8 hrs x 3 Nos), Coldstore (300 MT x 1 Nos), Flake Ice Machine (10 MT / 24 hrs) တပ်ဆင်ထားပြီး၊ စက်၏ Capacity အရ အနည်းဆုံး တစ်နေ့ ငါး (၁.၅) တန်၊ ပုစွန် (၀.၂) တန် ထုတ်လုပ်နိုင်ကြောင်းသိရှိရပါသည်။ အဆိုပါစက်များ ကိုင်တွယ်မောင်းနှင်ရန်နှင့် ကုန်ကြမ်း၊ ကုန်ချောများ ပြုပြင်ဆောင်ရွက်နိုင်ရန်အတွက် ဝန်ထမ်းစုစုပေါင်း (၈၃) ဦးဖြင့် ဆောင်ရွက်လျက်ရှိကြောင်း စိစစ်တွေ့ရှိရပါသဖြင့် ကုန်ချောထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

**(ဃ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စီးပွားရေးတွက်ခြေကိုက်မှုရှိ/ မရှိ**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စီးပွားရေးတွက်ခြေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိချက်များအရ သိရှိရပါသည်။ အဆိုပြုလွှာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ရေဆိုးများကို သန့်စင်သောစနစ်၊ အနံ့ဆိုးများကို သန့်စင်သောစနစ်၊ မီးဘေး ကြိုတင်ကာကွယ်မှု အစီအစဉ်များ တွေ့ရှိရပါသည်။

၃။ မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာန၊ ဖွံ့ဖြိုးရေးနှင့် သုတေသနဌာနခွဲ၊ ငါးလုပ်ငန်းစစ်ဆေးရေးနှင့် အရည်အသွေးထိန်းသိမ်းရေးဌာနစုအနေဖြင့် ပြည်ပပို့ကုန် ရေထွက်ပစ္စည်းများနှင့် လက်ခစားအပ်ကုန်စနစ်ဖြင့် ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများ၏ အရည်အသွေးနှင့် စားသုံးသူများ ဘေးအန္တရာယ်ကင်းရှင်းစေရေး အဓိကထား၍ စစ်ဆေးဆောင်ရွက်ပေးခြင်းဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Universal Cold Store (Yangon) Industrial Company Limited. သည် Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ပြုပြင်ထုတ်လုပ်သော ရေချိုငါး၊ ပုစွန်နှင့် ရေငန်ငါး၊ ပုစွန်လုပ်ငန်းကို ဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် ကုမ္ပဏီ၏ တင်ပြချက်အပေါ် လက်ခစားအပ်ကုန်စနစ်ဖြင့် ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ပြီး

ပြန်လည်တင်ပို့ရာတွင် ငါးလုပ်ငန်း ဦးစီးဌာနမှ ချမှတ်ထားသော လုပ်ငန်းအစီအမံများအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန

(၂) Universal Cold Store (Yangon) Industrial Company Limited.

(၃) ရုံးလက်ခံ

(၄) မျှော

နောက်ဆက်တွဲ- ဂ

MIC, 19/18/11

M3-102
18/1



ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်း အဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၁၀/MIC(OSS)/ECD/ ၀၁(၀၆/၁၆)
ရက် စွဲ ၊ ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Universal Cold Store (Yangon) Industrial Company Limited မှ Contract Processing စနစ်ဖြင့်ပြုပြင်ထုတ်လုပ်သောရေချိုငါး၊ ပုဇွန်နှင့်ရေငန်ငါး၊ ပုဇွန်လုပ်ငန်းတို့ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၂/ မ-၂၂၇/ ၂၀၁၅(၁၀၃၅)

၁။ Universal Cold Store (Yangon) Industrial Company Limited မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၃၈)ရှိစုစုပေါင်းမြေဧရိယာ ၂.၂၂၁ဧက(၈၉၈၈.၀၇၆၀၆စတုရန်းမီတာ)ကိုငှားရမ်းကာ Contract Processing (လက်ခစား)စနစ်ဖြင့်ပြုပြင်ထုတ်လုပ်သောရေချိုငါး၊ ပုဇွန်နှင့်ရေငန်ငါး၊ ပုဇွန်လုပ်ငန်းကိုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၅၀)နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး(၁၀)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၃)နှစ်ဖြစ်ကြောင်း၊ ထုတ်ကုန်ပစ္စည်းများအနေဖြင့် ရေချို၊ ရေငန်ငါး/ပုဇွန်များကို ပထမနှစ်တွင် ၁၄၄၁၂ မက်ထရစ်တန်မှ (၁၀)နှစ်အတွင်း ၁၉၁၈၀ မက်ထရစ်တန်အထိတိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်းမီးဘေးကြိုတင်ကာကွယ်မှုစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်များကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာသော အသားတင်အမြတ်ငွေ၏ (၂%)အားလူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-

CSR ) လုပ်ငန်းများတွင်အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ထုတ်လုပ်ရေးလုပ်ငန်းများမှ ထွက်ရှိလာမည့်လုပ်ငန်းခွင်စွန့်ပစ်ပစ္စည်းများကို ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့်ဆက်သွယ်၍ စွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ လေထုညစ်ညမ်းမှု၊ အသံဆူညံမှုမဖြစ်ပေါ်အောင် တတ်နိုင်သမျှစီစဉ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏လမ်းညွှန်ချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ ရေချိုရေငန်ငါးနှင့်ပုဇွန်ရေထွက်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းမှ အအေးခန်းစက်ရုံများတွင်Processing Washing & Peeling Room များ၌ရေထုညစ်ညမ်းနိုင်ခြင်း၊ စက်ရုံမှထွက်ရှိလာမည့် ငါး၊ ပုဇွန်တို့မှ အခွံများ၊ အကြေးခွံအစအနများကို စနစ်တကျစွန့်ပစ်ခြင်းမပြုပါက ပတ်ဝန်းကျင်ရေထု၊ မြေထုနှင့်လေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ ငါးပုဇွန်တို့ကိုသိုလှောင်ခြင်းနှင့် သိမ်းဆည်းခြင်းတို့မှ အနံ့ဆိုးများကြောင့် ပတ်ဝန်းကျင်လေထုညစ်ညမ်းမှုများဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Universal Cold Store (Yangon) Industrial Company Limited မှ ဆောင်ရွက်မည့် Contract Processing စနစ်ဖြင့် ထုတ်လုပ်မည့် ငါးပုဇွန်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကိုအသုံးပြုခြင်းနှင့်အဆိုပြုလွှာတွင်ဖော်ပြထားသော လူမှုရေးဆိုင်ရာတာဝန်ခံမှု ( Corporate Social Responsibility–CSR ) အတွက်အသားတင်အမြတ်ငွေ၏ (၂%) အား ထည့်ဝင်သွားရန် အပါအဝင်ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြု လုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု မရှိစေရေး

(သို့မဟုတ်)အနည်းဆုံးဖြစ်စေရေးတို့အတွက်ကနဦးပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Initial Environmental Examination – IEE ) ကိုဆောင်ရွက်ပြီး အစီရင်ခံစာရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ် စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan-EMP ) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီး၊
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဒုတိယဝန်ကြီး (ပတ်ဝန်းကျင်)၊
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ဃ



၁၈
14/1

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁- စမ(၂)၂၀၁၅-၂၀၁၆(၃၅၃၇)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၂ ရက်

134
13.1.16

သို့

✓ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀.၁၂.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂ / မ-၂၂၇/ ၂၀၁၅ (၁၀၃၈)

၁။ Universal Cold Store (Yangon)Industrial Co.,Ltd. မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ မြေကွက်အမှတ်(၃၈)တွင် Contract Processing (လက်ခစားစနစ်)ဖြင့် ပြုပြင်ထုတ်လုပ်သော ရေချိုငါး၊ ပုစွန်နှင့် ရေငန်ငါး၊ ပုစွန်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Contract Processing (လက်ခစားစနစ်)ဖြင့် ပြုပြင်ထုတ်လုပ်သော ရေချိုငါး၊ ပုစွန်နှင့် ရေငန်ငါး၊ ပုစွန်လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) ဤဝန်ကြီးဌာနတွင် အကြီးစားစက်မှုလုပ်ငန်းအဖြစ် မှတ်ပုံတင် ဆောင်ရွက်လျက်ရှိပြီး လုပ်ငန်းထပ်မံတိုးချဲ့ ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ဂ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) မိးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ထပ်မံလျှောက်ထား ဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Universal Cold Store (Yangon)Industrial Co.,Ltd. မှ Contract Processing (လက်ခစားစနစ်)ဖြင့် ပြုပြင်ထုတ်လုပ်သော ရေချိုငါး၊ ပုစွန်နှင့် ရေငန်ငါး၊ ပုစွန် လုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၂၊ ၁၊ ၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန